အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Global Agriculture Joint Venture Company Limited မှ ပုဂ္ဂလိကကျွန်းစိုက်ခင်း စိုက်ပျိုး တည်ထောင် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ကမကထပြုသူ | - Global Agriculture Joint Venture Company Limited<br>- ဦးစိုင်းမျိုးဝင်း |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>Cruilight Limited (British Virgin Islands) ၉၀%<br>Jade King & Queen Gems & Jewellery Company Limited (မြန်မာနိုင်ငံ) ၁၀% |
| | လုပ်ငန်းအမျိုးအစား | - ပုဂ္ဂလိကကျွန်းစိုက်ခင်း စိုက်ပျိုးတည်ထောင် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - ကွင်းအမှတ်-၈၉၈(ဘီ)ရဲကျော်၊ ပန်းပင်တန်းကျေးရွာအုပ်စု၊ ကွင်းအမှတ်-၈၉၉(က/ခ)ဒုံခပ်ကျော့၊ ၈၉၇ သက္ကကူး၊ ၈၉၄/၉၀၀ တောင်တန်းကျော်+အုံတုံ၊ ၉၀၃ ကုန်းသာကြီး၊ ၉၀၂/၉၀၄ ကတ္တရာဇာအင်း+သရက်အင်း၊ ၉၀၄(အေ)၊ ၉၀၁(က) ရှော်ပုံ၊ ၉၀၅ အဲလကူး၊ ၈၅၆၊ ချောင်းစောက်ကျေးရွာအုပ်စု၊ ၈၅၁-(အေ) ကျွဲစားကျက်၊ ၈၅၂ ကျပ်ကလေး၊ ၈၅၃ သစ်ကြီးလေးပင်၊ စမ်းရွာ ကျေးရွာအုပ်စု၊ အကွက်အမှတ်-၃၈၊ ၃၉၊ ၄၀၊ ၄၁၊ ဥက္ကံကြိုးဝိုင်း၊ တိုက်ကြီးမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး<br>- အကွက်အမှတ်-၆၄၊ ၆၅၊ ၆၆၊ ၆၇၊ ၆၈၊ ၆၉၊၇၀၊ ၇၁ ပိုင်း၊ သုံးဆယ်ကြိုးဝိုင်း၊ သာယာဝတီမြို့နယ်၊ ပဲခူးတိုင်း(အနောက်ပိုင်း) |
| ၃။ | မြေပိုင်ရှင် | - Jade King & Queen Gems & Jewellery Company Limited |
| | မြေအကျယ်အဝန်း | - စုစုပေါင်းမြေဧရိယာ ၁၄၉၀၀.၅၆ ဧက (၆၀,၃၀၀,၄၈၀.၂ စတုရန်းမီတာ)<br>- (၃၆၇၆.၈၇+၁၂၂၃.၆၉+၁၀၀၀+၂၀၀၀+၂၁၄၁+၁၈၅၉+ ၃၀၀၀) ဧက |



Global Aari salient

| | | |
|---|---|---|
| ၄။ | နှစ်စဉ်မြေငှားရမ်းခ | - အမေရိကန်ဒေါ်လာ ၃၅၉၃၇၅<br>- (တစ်နှစ်တစ်ဧကလျှင်အမေရိကန်ဒေါ်လာ ၂၈.၁၂ ဒေါ်လာနှုန်း) |
| | မြေငှားရမ်းကာလ | - ၃၂ နှစ် |
| ၅။ | လုပ်ငန်းသက်တမ်း | - ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀နှစ် ၂ကြိမ် |
| | တည်ဆောက်ရေးကာလ | - ၆ လ |
| ၆။ | စုစုပေါင်းမတည်ငွေရင်းပမာဏ | - အမေရိကန်ဒေါ်လာ ၁၁၅ သန်း |

US$ သန်း

| | ပြည်ပ | ပြည်တွင်း | စုစုပေါင်း |
|---|---|---|---|
| ငွေသား | ၁၀၁.၃ | | ၁၀၁.၃ |
| စက်ပစ္စည်းကိရိယာများ | ၂.၂ | | ၂.၂ |
| မြေငှားရမ်းခ | | ၁၁.၅ | ၁၁.၅ |
| စုစုပေါင်း | ၁၀၃.၅ | ၁၁.၅ | ၁၁၅ |

| | | |
|---|---|---|
| ၇။ | ဝန်ထမ်းအင်အား | - ၅၅၀ ဦး |
| | ပြည်တွင်း | - ၅၃၆ ဦး (ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ်၁၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၃,၀၀၀,၀၀၀ ဖြစ်ပါသည်။) |
| | ပြည်ပ | - ၁၄ဦး(ပြည်ပဝန်ထမ်းတစ်ဦး၏အနိမ့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၃,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ၁၂,၀၀၀ ဖြစ်ပါသည်။) |
| ၈။ | ရောင်းချမည့်စနစ် | - နှစ်အလိုက်ပြည်တွင်း/ပြည်ပသို့ တင်ပို့ရန်ရောင်းချရန် အစီအစဉ် ရှိကြောင်း တင်ပြထားပါသည်။ |
| | နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ် (၆ နှစ်မြောက်) | |

| စဉ် | ပစ္စည်း အမျိုးအစား | အရေအတွက် (MT) ပြည်တွင်း | ပြည်ပ | ရောင်းချမည့် ဈေးနှုန်း (US$/MT) |
|---|---|---|---|---|
| (က) | Teak(7 year old) | ၄,၅၀၀ | - | ၅၇၇ |
| (ခ) | Teak(14year old) | ၇၄၉၃၈.၂၁ | ၇၄၉၃၈.၂၁ | ၇၅၀ |

| | | |
|---|---|---|
| ၉။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - ၁.၅ MWA(own generator) |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၂/ခ-၀၀၆/၂၀၁၇( ၆၄၈ )
ရက်စွဲ ၊ ၂၀၁၇ ခုနှစ် ဩဂုတ်လ ၂၄ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့် အမှာစာ

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Global Agriculture Joint Venture Company Limited မှ ပုဂ္ဂလိကကျွန်းစိုက်ခင်း စိုက်ပျိုး တည်ထောင် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ ဗြိတိန်နိုင်ငံ (British Virgin Islands) Cruilight Limited မှ (၉၀%)နှင့် မြန်မာနိုင်ငံမှ Jade King & Queen Gems & Jewellery Company Limited မှ (၁၀%) အစုရှယ်ယာများ ထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Global Agriculture Joint Venture Company Limited တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ တိုက်ကြီးမြို့နယ်၊ ကွင်းအမှတ်-၈၉၈(ဘီ)ရဲကျော်၊ ပန်းပင်တန်းကျေးရွာအုပ်စု၊ ကွင်းအမှတ်-၈၉၉(က/ခ)ဒုံခပ်ကျော့၊ ၈၉၇ သက္ကကူး၊ ၈၉၄/ ၉၀၀ တောင်တန်းကျော်+အုံတုံ၊ ၉၀၃ ကုန်းသာကြီး၊ ၉၀၂/ ၉၀၄ ကတ္တရာဓာအင်း+သရက်အင်း၊ ၉၀၄(အေ)၊ ၉၀၁(က)ရှော်ပုံ၊ ၉၀၅ အဲလကူး၊ ၈၅၆၊ ချောင်းစောက်ကျေးရွာအုပ်စု၊ ၈၅၁-(အေ)ကျွဲစားကျက်၊ ၈၅၂ ကျပ်ကလေး၊ ၈၅၃ သစ်ကြီးလေးပင်၊ စမ်းရွာကျေးရွာအုပ်စု၊ အကွက်အမှတ်-၃၈၊ ၃၉၊ ၄၀၊ ၄၁၊ ဥက္ကံကြိုးဝိုင်း၊ ပဲခူးတိုင်း(အနောက်ပိုင်း)၊ သာယာဝတီမြို့နယ်၊ အကွက်အမှတ်-၆၄၊ ၆၅၊ ၆၆၊ ၆၇၊ ၆၈၊ ၆၉၊၇၀၊ ၇၁(ပိုင်း)၊ သုံးဆယ်ကြိုးဝိုင်း၊ အတွင်းရှိ စုစုပေါင်းမြေဧရိယာ ၁၄၉၀၀.၅၆ ဧကကို ငှားရမ်း၍ ပုဂ္ဂလိကကျွန်းစိုက်ခင်း စိုက်ပျိုးတည်ထောင် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ မြေပိုင်ရှင် သစ်တောဦးစီးဌာနနှင့် မြေငှားသူ Jade King & Queen Gems & Jewellery Company Limited တို့ ချုပ်ဆိုထားသော မြေငှားရမ်းခြင်း စာချုပ်များ၊ မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများ စီမံခန့်ခွဲရေးဗဟိုအဖွဲ့မှ နှစ်ရှည်သီးနှံစိုက်ပျိုးရန်အတွက် ခွင့်ပြုထားသည့် မြေအထောက်အထားများ၊ Jade King & Queen Gems & Jewellery Company Limited နှင့် Global Agriculture Joint Venture Company Limited တို့ ချုပ်ဆိုမည့် မြေငှားစာချုပ်(မူကြမ်း)တို့အား တင်ပြထားပါသည်။

၃။ မြေငှားစာချုပ်များအရ မြေငှားသက်တမ်းမှာပျမ်းမျှ ၃၂နှစ်ဖြစ်ပါသည်။ မြေအကျယ်အဝန်းမှာ စုစုပေါင်းမြေဧရိယာ ၁၄၉၀၀ ဧက ဖြစ်ပြီး မြေငှားရမ်းခမှာ တစ်ဧကလျှင်ပျမ်းမျှ အမေရိကန်ဒေါ်လာ ၂၈.၁၂၉ နှုန်း ဖြစ်ပါသည်။ လုပ်ငန်းစီမံကိန်း ကာလမှာကနဦး ၅၀နှစ် ဖြစ်ပြီး ပြင်ဆင်ရေးကာလမှာ ၆ လကြာမြင့်မည် ဖြစ်ကြောင်းတင်ပြ ထားပါသည်။

၄။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းမှာ အမေရိကန်ဒေါ်လာ ၁၁၅ သန်း ဖြစ်ပြီး ထည့်ဝင်မှုမှာ **ပူးတွဲ-က** ပါ အတိုင်းဖြစ်ပါသည်။

၅။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း ၅၃၆ ဦးနှင့် ပြည်ပဝန်ထမ်း ၁၄ ဦး စုစုပေါင်း ဝန်ထမ်းဦးရေ ၅၅၀ ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၃,၀၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၁,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၃,၅၀၀ ဖြစ်ပါသည်။

၆။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသည့် ကုန်ပစ္စည်းများအား နှစ်အလိုက်ပြည်တွင်း/ပြည်ပသို့ တင်ပို့ရန်ရောင်းချရန် အစီအစဉ်ရှိကြောင်း တင်ပြထားပါသည်။ အဆိုပြုလုပ်ငန်း၏ ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်)ရှိ ပြည်တွင်း ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ **ပူးတွဲ-ခ** ပါအတိုင်းဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထား ပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံးမှ** ကန့်ကွက်ရန်မရှိပါကြောင်း သဘောထား ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-က**

(ခ) **ပဲခူးတိုင်းဒေသကြီး အစိုးရအဖွဲ့ရုံးမှ** ကန့်ကွက်ရန်မရှိပါကြောင်း သဘောထား ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ခ**

(ဂ) **သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန** မှ ကန့်ကွက်ရန် မရှိပါကြောင်းနှင့် **ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန**မှ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) ဆောင်ရွက်ရန်နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)ကိုဆောင် ရွက်ရန်လိုအပ်ပါကြောင်း သဘောထားပြန်ကြားထားပါသည်။ **နောက်ဆက် တွဲ-ဂ**

၈။ ငွေရေးကြေးရေး အထောက်အထားအဖြစ် Jade King & Queen Gems & Jewellery Company Limited အမည်ဖြင့် မြန်မာနိုင်ငံ ရေဝတီ ဘဏ်တွင် ၃-၈-၂၀၁၇ ရက်စွဲဖြင့် ကျပ် ၁,၅၀၀,၀၀၀၉,၉၅၀ ရှိကြောင်းနှင့် Cruilight Limited တွင် အစုရှယ်ယာပါဝင်သည့် Bateral Limited အမည်ဖြင့် DBS Bank(Hong Kong)တွင် ၃-၁-၂၀၁၇ ရက်စွဲဖြင့် HKD ၅၆၇,၀၀၀,၀၀၀ (၇၂,၅၆၂,၃၀၀ UD$)ရှိကြောင်း တင်ပြထားပါသည်။

၉။ Global Agriculture Joint Venture Company Limited မှ မီးဘေးကာကွယ်ရေး အစီအစဉ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေးစီမံချက်၊ ဝန်ထမ်းသက်သာ ချောင်ချိရေး စီမံချက်များ တင်ပြထားပါသည်။

၁၀။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏၂၀၁၇ ခုနှစ် ဩဂုတ်လ ၈ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ၂၀/၂၀၁၇ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၁။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ် ပါသည်-

(က) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၃၆ အရ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသည် ကော်မရှင်ခွင့်ပြုမိန့် ရယူရန် လိုအပ်သည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း အမျိုးအစားဖြစ် ပါ သည်။

(ခ) အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ ၂၀၁၇ ခုနှစ် ဧပြီလ ၁ ရက်စွဲပါ အမိန့်ကြော်ငြာစာအမှတ်-၁၃/၂၀၁၇အရ ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှု ကဏ္ဍစာရင်းတွင် ပါဝင်သည့် လုပ်ငန်းအမျိုးအစား ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်းသည် ဇုန်(၂)တွင်ပါဝင်ပါသည်။ ကုမ္ပဏီမှ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့် လျှောက်ထား လွှာ ပူးတွဲတင်ပြထားပြီး ဝင်ငွေခွန် (၅) နှစ် ခံစားနိုင်မည် ဖြစ်ပါသည်။

(ဂ) ခွင့်ပြုမိန့်ရရှိပြီးပါက သက်ဆိုင်ရာလုပ်ငန်းလိုင်စင်များ လျှောက်ထားရန် လိုအပ်ပါသည်။

(ဃ) အဆိုပြုချက်အရ စုစုပေါင်းမြေဧရိယာ ၁၄၉၁၀.၅၆ဧကပြည့်မီရေးအတွက် သဘောတူ စာချုပ် ချုပ်ဆိုရန်ကျန်ရှိသည့် ဧရိယာ ၃၀၀၀ဧကနှင့် ဆက်လက်ဆောင်ရွက်လိုသည့် ဒုတိယအဆင့် အကောင်အထည်ဖော် ဆောင်ရွက်မည့် ဧက ၁၅၀၉၉.၄၄ ရရှိရေး အတွက် သစ်တောဦးစီးဌာနနှင့် ဆက်လက်ညှိနှိုင်းရန် လိုအပ်မည်ဖြစ်ပါသည်။

(င) မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများ စီမံခန့်ခွဲမှုကော်မတီဗဟိုမှ မူလခွင့်ပြုထားသည့် သီးနှံမှ ကျွန်းပြောင်းလဲ စိုက်ပျိုးခွင့်အား ကုမ္ပဏီမှ သီးခြားလျှောက်ထားရန် လိုအပ် မည်ဖြစ်ပါသည်။

(စ) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၂။ Global Agriculture Joint Venture Company Limited မှ ပုဂ္ဂလိကကျွန်းစိုက်ခင်း စိုက်ပျိုးတည်ထောင် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

Global Agriculture Joint Venture Company Limited မှ
ထည့်ဝင်မည့် မတည်ငွေရင်းဆိုင်ရာ အခြေပြဇယား

US$ /သန်း

| | ပြည်ပ | ပြည်တွင်း | စုစုပေါင်း |
|---|---|---|---|
| ငွေသား | ၁၀၀.၃ | | ၁၀၀.၃ |
| စက်ပစ္စည်း | ၂.၂ | - | ၂.၂ |
| မြေငှားရမ်းခ | - | ၁၁.၅ | ၁၁. ၅ |
| စုစုပေါင်း | ၁၀၃.၅ | ၁၁.၅ | ၁၁၅ |

# အဆိုပြုလုပ်ငန်း၏ ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်)ရှိ ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်း

| စဉ် | ပစ္စည်း အမျိုးအစား | အရေအတွက် (MT) | | ရောင်းချမည့် ဈေးနှုန်း (US$/MT) |
|---|---|---|---|---|
| | | ပြည်တွင်း | ပြည်ပ | |
| (က) | Teak(7 year old) | ၄,၅၀၀ | | ၅၇၇ |
| (ခ) | Teak(14year old) | ၇၄၉၃၈.၂၁ | ၇၄၉၃၈.၂၁ | ၇၅၀ |

နောက်ဆက်တွဲ-က

တိုင်းဒေသကြီး
စာအမှတ် ၂၅၁၀
ရက်စွဲ ၂၂.၈.၁၇
ရန်ကုန်တိုင်းဒေသကြီး

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဩဂုတ်လ ၂၂ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၁.၈.၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၂/ ခ-၁၀၆/၂၀၁၇(၆၁၀)

၁။ ဗြိတိန်နိုင်ငံ (British Virgin Islands) Cruilight Limited မှ (၉၀%)နှင့် မြန်မာနိုင်ငံမှ Jade King & Queen Gems & Jewellery Company Limited မှ (၁၀%) အစုရှယ်ယာများ ထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Global Agriculture Joint Venture Company Limited တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ တိုက်ကြီးမြို့နယ်၊ ကွင်းအမှတ်-၈၉၈(ဘီ)ရဲကျော်၊ ပန်းပင်တန်းကျေးရွာအုပ်စု၊ ကွင်းအမှတ်-၈၉၉(က/ခ)ဒုံခပ်ကျော့၊ ၈၉၇ သက္ကကူး၊ ၈၉၄/၉၀၀ တောင်တန်းကျော်+အုံတုံ၊ ၉၀၃ ကုန်းသာကြီး၊ ၉၀၂/၉၀၄ ကတ္တရာဇာအင်း+သရက်အင်း၊ ၉၀၄(အေ)၊ ၉၀၁(က)ရော်ပုံ၊ ၉၀၅ အဲလကူး၊ ၈၅၆၊ ချောင်းစောက်ကျေးရွာအုပ်စု၊ ၈၅၁-(အေ) ကွဲစားကျက်၊ ၈၅၂ ကျပ်ကလေး၊ ၈၅၃ သစ်ကြီးလေးပင်၊ စမ်းရွာကျေးရွာအုပ်စု၊ အကွက်အမှတ်-၃၈၊ ၃၉၊ ၄၀၊ ၄၁၊ ဥက္ကံကြိုးဝိုင်း၊ ပဲခူးတိုင်း(အနောက်ပိုင်း)၊ သာယာဝတီမြို့နယ်၊ အကွက်အမှတ်-၆၄၊ ၆၅၊ ၆၆၊ ၆၇၊ ၆၈၊ ၆၉၊ ၇၀၊ ၇၁(ပိုင်း)၊ သုံးဆယ်ကြိုးဝိုင်းအတွင်းရှိ စုစုပေါင်းမြေဧရိယာ ၁၄၉၀၀.၅၆ ဧကကို ငှားရမ်း၍ ပုဂ္ဂလိကကျွန်းစိုက်ခင်း စိုက်ပျိုးတည်ထောင် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ၁၇.၈.၂၀၁၇ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၂၉/၂၀၁၇)၊ ဆုံးဖြတ်ချက် အပိုဒ် (၆၂)အရ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ် (ကိုယ်စား)
( နော်ပန်းသဉ္ဇာမြိုး၊ ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး )

D/2017/Cabinet/29,(3)

မိတ္တူကို

ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
တိုက်ကြီးမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Global Agriculture Joint Venture Company Limited
လက်ခံစာတွဲ
မျှောစာတွဲ

D/2017/Cabinet/29.,(4)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့
ပဲခူးမြို့

စာအမှတ်၊ ၈/၁ -၁၂ /ဦး ၈ (၅၉၁၆)
ရက် စွဲ ၊ ၂၀၁၇ ခုနှစ်၊ ဩဂုတ်လ ၁၈ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊သစ္စာလမ်း၊ရန်ကင်းမြို့နယ်
ရန်ကုန်တိုင်းဒေသကြီး

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၇.၆.၂၀၁၇) ရက်စွဲပါ စာအမှတ်၊ မရက-၃/ အ- ၁၆/ ၂၀၁၇(၅၆၄)

၁။ ဗြိတိန်နိုင်ငံ(British Virgin Islans)Cruilight Limited မှ (၉၀%)နှင့် မြန်မာနိုင်ငံမှ Jade King & Queen Gems & Jewellery Company Limited မှ (၁၀%)အစုရှယ်ယာများ ထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Global Agriculture Joint Venture Company Limited တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ တိုက်ကြီးမြို့နယ်၊ ကွင်းအမှတ်-၈၉၈(ဘီ)ရဲကျော်၊ ပန်းပင်တန်းကျေးရွာအုပ်စု၊ ကွင်းအမှတ်-၈၉၉ (က/ခ) ဒုံခပ်ကျော့ ၊ ၈၉၇ သက္ကကူး ၊ ၈၉၄/၉၀၀ တောင်တန်းကျော်+အုံတုံ၊ ၉၀၃ ကုန်းသာကြီး၊ ၉၀၂/၉၀၄ ကတ္တရာဓာအင်း + သရက်အင်း၊ ၉၀၄(အေ)၊ ၉၀၁(က) ရော်ပုံ၊ ၉၀၅ အဲလကူး၊ ချောင်းစောက်ကျေးရွာအုပ်စု၊ ၈၅၁(အေ) ကျွဲစားကျက်၊ ၈၅၂ ကျပ်ကလေး၊ ၈၅၃ သစ်ကြီးလေးပင်၊ စမ်းရွာကျေးရွာအုပ်စု၊ အကွက်အမှတ်-၃၈၊ ၃၉၊ ၄၀၊ ၄၁၊ ဥက္ကံကြိုးဝိုင်း၊ ပဲခူးတိုင်းဒေသကြီး (အနောက်ပိုင်း)၊သာယာဝတီမြို့နယ်၊ အကွက်အမှတ်-၆၄၊ ၆၅၊ ၆၆၊ ၆၇၊ ၆၈၊ ၆၉၊ ၇၀၊ ၇၁(ပိုင်း)၊ သုံးဆယ်ကြိုးဝိုင်းအတွင်းရှိ စုစုပေါင်းမြေဧရိယာ(၁၄၉၀၀.၅၆)ဧကအား ငှားရမ်း၍ ပုဂ္ဂလိက ကျွန်းစိုက်ခင်း စိုက်ပျိုးတည်ထောင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာမှုအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ စိစစ်ရာတွင် အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) အဆိုပြုလုပ်ငန်းမြေနေရာသည် သစ်တောကြိုးဝိုင်းမြေများဖြစ်ပြီး သစ်တောဦးစီးဌာနနှင့် ကုမ္ပဏီတို့အကြား (၃၅)နှစ် စာချုပ်ချုပ်ဆိုပြီးဖြစ်သည့်အတွက် လုပ်ငန်းဆောင်ရွက်နိုင်မည့်မြေနေရာဖြစ်ပြီး နောင်ပြုလုပ်မည့်(သို့မဟုတ်)လက်ရှိမြို့ပြစီမံကိန်းကိုထိခိုက်နိုင်ခြင်းမရှိကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်နိုင်ကြောင်း၊

(ဂ) ဖော်ပြပါမြေနေရာအား အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများမှ လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်မှု ရှိပါကြောင်း

၃။ သို့ဖြစ်ပါ၍ ဗြိတိန်နိုင်ငံ(British Virgin Islands)Cruilight Limited မှ (၉၀%)နှင့် မြန်မာနိုင်ငံမှ Jade King & Queen Gems & Jewellery Company Limited မှ (၁၀%)အစု ရှယ်ယာများ ထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Global Agriculture Joint Venture Company Limited တည်ထောင်ပြီး ပဲခူးတိုင်းဒေသကြီးအတွင်း ပုဂ္ဂလိက ကျွန်းစိုက်ခင်း စိုက်ပျိုးတည်ထောင် ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာမှုအပေါ် သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ သတ်မှတ်ချက်များနှင့်အညီ ဆောင်ရွက်ပြုမည်ဆိုပါက ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

18. 8. 2017

ဝန်ကြီးချုပ်(ကိုယ်စား)
ဦးညွန့်ရွှေ၊ ဝန်ကြီး
စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန

**မိတ္တူကို**

Global Agriculture Joint Venture Company Limited
လက်ခံစာတွဲ
မျှောစာတွဲ

2017 New (Head Office)-71

နောက်ဆက်တွဲ- ဂ

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန**
**ပြည်ထောင်စုဝန်ကြီးရုံး**

**စာအမှတ်** (သစ်တော)၃(၂)/၁၆(ခ)( ၂၆၇၁ /၂၀၁၇)
**ရက်စွဲ** ၂၀၁၇ ခုနှစ် ၊ ဩဂုတ်လ ၂၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၁-၈-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၂/ ခ-၀၀၆/ ၂၀၁၇ (၆၁၁)

၁။ ဗြိတန်နိုင်ငံ (British Virgin Islands) Cruilight Limited မှ (၉၀%) နှင့် မြန်မာနိုင်ငံမှ Jade King & Queen Gems & Jewellery Company Limited မှ (၁၀%) အစုရှယ်ယာများ ထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Global Agriculture Joint Venture Company Limited တည်ထောင်ပြီး မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများ စီမံခန့်ခွဲမှုဗဟိုအဖွဲ့မှ ခွင့်ပြုထားသည့် မြေ ၄၉၀၀.၅၆ ဧက ရန်ကုန်တိုင်းဒေသကြီး၊ တိုက်ကြီးမြို့နယ်၊ ကွင်းအမှတ်-၈၉၈(ဘီ) ရဲကျော်၊ ပန်းပင်တန်းကျေးရွာအုပ်စု၊ ကွင်းအမှတ် - ၈၉၉(က/ခ) ဒိုံခပ်ကျော့၊ ၈၉၇ သက္ကကူး၊ ၈၉၄/၉၀၀ တောင်တန်းကျော်+အုံတုံ၊ ၉၀၃ ကုန်းသာကြီး၊ ၉၀၂/၉၀၄ ကတ္တရာဇာအင်း+သရက်အင်း၊ ၉၀၄(အေ)၊ ၉၀၁(က)ရျော်ပုံ၊ ၉၀၅ အဲလကူး၊ ၈၅၆၊ ချောင်းစောက်ကျေးရွာအုပ်စု၊ ၈၅၁-(အေ) ကျွဲစားကျက်၊ ၈၅၂ ကျပ်ကလေး၊ ၈၅၃ သစ်ကြီးလေးပင်၊ စမ်းရွာကျေးရွာအုပ်စုနှင့် သစ်တောဦးစီးဌာနမှ ခွင့်ပြုမြေ (၇၀၀၀)ဧက၊ အကွက်အမှတ်-၃၈၊ ၃၉၊ ၄၀၊ ၄၁၊ ဥက္ကံကြိုးဝိုင်း၊ ပဲခူးတိုင်း(အနောက်ပိုင်း)၊ သာယာဝတီမြို့နယ်၊ အကွက်အမှတ်-၆၄၊ ၆၅၊ ၆၆၊ ၆၇၊ ၆၈၊ ၆၉၊ ၇၀၊ ၇၁(ပိုင်း)၊ သုံးဆယ်ကြိုးဝိုင်းအတွင်းရှိ စုစုပေါင်းမြေဧရိယာ ၁၄၉၀၀.၅၆ ဧကအား ငှားရမ်း၍ ပုဂ္ဂလိကကျွန်းစိုက်ခင်း စိုက်ပျိုး တည်ထောင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းနှင့်ပတ်သက်၍ ရည်ညွှန်းစာဖြင့် အဆိုပြုလွှာအား လက်ခံသည့်နေ့ရက်မှ ရက်ပေါင်း(၆၀)အတွင်း အတည်ပြုမိန့်ထုတ်ပေးရမည်ဖြစ်၍ အဆိုပြုလုပ်ငန်းအပေါ် သဘောထားမှတ်ချက်အား ၂၀၁၇ ခုနှစ်၊ ဩဂုတ်လ ၂၄ ရက်နေ့နောက်ဆုံးထားပြန်ကြားပေးပါရန်နှင့် သတ်မှတ်ကာလအတွင်း ပြန်ကြားချက်မရရှိပါက ခွင့်ပြုရန် သဘောတူညီသည်ဟု မှတ်ယူဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း ရည်ညွှန်းစာဖြင့် ညှိနှိုင်းအကြောင်းကြားလာပါသည်။

၂။ အဆိုပါညှိနှိုင်းလာမှုနှင့်ပတ်သက်၍ ဤဝန်ကြီးဌာနမှ စိစစ်ရာတွင် ကျောက်စိမ်းဘုရင်နှင့် ဘုရင်မကျောက်မျက်ရတနာကုမ္ပဏီလီမိတက်မှ ပုဂ္ဂလိက ကျွန်းစိုက်ခင်း စိုက်ပျိုးတည်ထောင်ခွင့်

အတွက် ပြည်ထောင်စုအစိုးရအဖွဲ့၏ ခွင့်ပြုမိန့်ရရှိပြီးဖြစ်ခြင်း၊ ပုဂ္ဂလိက ကျွန်းစိုက်ခင်း ဧက ၇၀၀၀ အား သစ်တောဦးစီးဌာနနှင့် စိုက်ပျိုးတည်ထောင်ထုတ်လုပ်ရောင်းချခြင်းဆိုင်ရာ စာချုပ် ချုပ်ဆိုပြီးဖြစ်ခြင်းတို့ကြောင့် ဗြိတန်နိုင်ငံ (British Virgin Islands) Cruilight Limited နှင့် မြန်မာနိုင်ငံမှ Jade King & Queen Gems & Jewellery Company Limited မှ အစုရှယ်ယာများ ထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Global Agriculture Joint Venture Company Limited တည်ထောင်၍ ပုဂ္ဂလိက ကျွန်းစိုက်ခင်း တည်ထောင်ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုလျှောက်ထားခြင်း နှင့်စပ် လျဉ်း၍ ကုမ္ပဏီမှ ဆက်လက်ဆောင်ရွက်ရမည့် ပုဂ္ဂလိကကျွန်းစိုက်ခင်းဆိုင်ရာ ကိစ္စရပ်များတွင် သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ လုပ်ထုံးလုပ်နည်း၊ စည်းကမ်း ချက်များနှင့်အညီ ဆောင်ရွက်ရန်လိုအပ်မည်ဖြစ်ပါကြောင်းနှင့် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Global Agriculture Joint Venture Company Limited တည်ထောင်၍ လုပ်ငန်းဆောင်ရွက်ခြင်းအား ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါ သည်။

၂၂/၈/၂၀၁၇

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ဝင်းဇော်၊ ဒုတိယအမြဲတမ်းအတွင်းဝန် )

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်
သစ်တောဦးစီးဌာန

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊၀၀၁/ MIC(OSS) /၀၁(၁၄၆/၁၇)
ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဩဂုတ်လ ၂၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Global Agriculture Joint Venture Company Limited မှ ပုဂ္ဂလိက ကျွန်းစိုက်ခင်းစိုက်ပျိုးတည်ထောင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၁-၈-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၂/ ခ-၀၀၆/၂၀၁၇ (၆၀၆)

၁။ ဗြိတိန်နိုင်ငံ (British Virgin Islands) Cruilight Limited မှ (၉၀%) နှင့် မြန်မာနိုင်ငံမှ Jade King & Queen Gems & Jewellery Company Limited မှ (၁၀%) အစုရှယ်ယာများထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Global Agriculture Joint Venture Company Limited တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ တိုက်ကြီးမြို့နယ်၊ ကွင်းအမှတ်- ၈၉၈(ဘီ) ရဲကျော်၊ ပန်းပင်တန်းကျေးရွာအုပ်စု၊ ကွင်းအမှတ်- ၈၉၉(က/ခ) ဒုံခပ်ကျော့၊ ၈၉၇ သက္ကကူး၊ ၈၉၄/၉၀၀ တောင်းတန်းကျော်+အုံတုံ၊ ၉၀၃ ကုန်းသာကြီး၊ ၉၀၂/၉၀၄ ကတ္တရာဓာအင်း+သရက်အင်း၊ ၉၀၄(အေ)၊ ၉၀၁ (က)ရှော်ပုံ၊ ၉၀၅ အဲလကူး၊ ၈၅၆၊ ချောင်းစောက်ကျေးရွာအုပ်စု၊ ၈၅၁-(အေ) ကျွဲစားကျက်၊ ၈၅၂ ကျပ်ကလေး၊ ၈၅၃ သစ်ကြီးလေးပင်၊ စမ်းရွာကျေးရွာအုပ်စု၊ အကွက်အမှတ်- ၃၈၊ ၃၉၊ ၄၀၊ ၄၁၊ ဥက္ကံကြိုးဝိုင်း၊ ပဲခူးတိုင်း(အနောက်ပိုင်း)၊ သာယာဝတီမြို့နယ်၊ အကွက်အမှတ်- ၆၄၊ ၆၅၊ ၆၆၊ ၆၇၊ ၆၈၊ ၆၉၊ ၇၀၊ ၇၁(ပိုင်း)၊ သုံးဆယ်ကြိုးဝိုင်း၊ အတွင်းရှိ စုစုပေါင်းမြေဧရိယာ ၁၄၉၀၀.၅၆ ဧက ကို ငှားရမ်း၍ ပုဂ္ဂလိက ကျွန်းစိုက်ခင်း စိုက်ပျိုးတည်ထောင် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်လိုကြောင်းတင်ပြလာခြင်းနှင့် စပ်လျဉ်း၍ စိစစ်ပြီးသဘောထားမှတ်ချက် ပြန်ကြားပေးပါရန်ရည် ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါ စုံစမ်းမေးမြန်းလာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင်အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသောအဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာနှစ် (၅၀) ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအား တိုက်ကြီးမြို့နယ်၊ ဥက္ကံမြို့နယ်တို့ရှိ သစ်တောကြိုးဝိုင်း၊ မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများတွင် တည်ထောင်စိုက်ပျိုးပြီးဖြစ်ကာ စိုက်ဧက (၃၀၀၀၀) ပြည့်မီရေးအတွက် သစ်တောဦးစီးဌာနမှ ကြိုးဝိုင်းအတွင်းစိုက်ခင်းတည်ထောင်ခွင့် ခွင့်ပြုမိန့်ထပ်မံရယူကာ ဆောင်၍ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ သစ်တောဦးစီးဌာနနှင့် ကျောက်စိမ်းဘုရင်နှင့် ဘုရင်မကျောက်မျက်ရတနာကုမ္ပဏီလီမိတက်တို့အကြား ၂၀၀၈-၂၀၀၉ ခုနှစ်အတွင်းတည်ထောင်

စိုက်ပျိုးမည့် ပုဂ္ဂလိကကျွန်းစိုက်ခင်း ဧက(၁၀၀၀)၊ ၂၀၁၉-၂၀၁၀ ခုနှစ်တွင် တည်ထောင်စိုက်ပျိုးမည့် ပုဂ္ဂလိကကျွန်းစိုက်ခင်း ဧက(၂၀၀၀)၊ ၂၀၁၀-၂၀၁၁ ခုနှစ်တွင် တည်ထောင်စိုက်ပျိုးမည့် ပုဂ္ဂလိကကျွန်းစိုက်ခင်း ဧက(၂၁၄၁)၊ ၂၀၁၁-၂၀၁၂ ခုနှစ်တွင် တည်ထောင်စိုက်ပျိုးမည့် ပုဂ္ဂလိကကျွန်းစိုက်ခင်း ဧက(၁၈၅၉)တို့တွင် ကျွန်းစိုက်ပျိုး တည်ထောင်ထုတ်လုပ်ရောင်းချခြင်းဆိုင်ရာ စာချုပ်ဖော်ပြပါရှိပါကြောင်း၊

(ဃ) အဆိုပြုလုပ်ငန်းအတွက် စိုက်ပျိုးထုတ်လုပ်ရန် ရည်ရွယ်ထားရှိသည့် ဧက (၃၀၀၀၀) ပြည့်မီရေးအတွက် လိုအပ်သည့် သစ်တောမြေ (၂၃၀၀၀) ကို ထပ်မံစိုက်ပျိုးခွင့်ပြုပါရန် တင်ပြလျှောက်ထားခြင်းနှင့်စပ်လျဉ်း၍ သစ်တောဦးစီးဌာနမှ လိုအပ်သည့်အချက်အလက်များပြုစုပေးပို့ရန် ၂၀၀၃ ခုနှစ်၊ အောက်တိုဘာလတွင်ပြန်ကြားထားသည့် စာဖော်ပြပါရှိပါကြောင်း၊

(င) အဆိုပြုလုပ်ငန်းမှ စိုက်ပျိုးပြီးအပင်ထုတ်လုပ်မှုအား သစ်တောဦးစီးဌာနမှချမှတ်ထားသော ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်း၊ စည်းကမ်းများနှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

(စ) မီးဘေး ကြိုတင်ကာကွယ်ရေးစီမံချက်၊ အရေးပေါ် ဘေးအန္တရာယ်စီမံခန့်ခွဲရေး အစီအစဉ်၊ အရေးပေါ် ကယ်ဆယ်ရေးအစီအစဉ်၊ လုံခြုံရေးအစီအစဉ်နှင့် ဝန်ထမ်းသက်သာချောင်ချိရေးအစီအစဉ်များကို ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဆ) လုပ်ငန်းမှ နှစ်စဉ်ရရှိလာမည့်အမြတ်ငွေ၏ (၂%) ခန့်ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် အသုံးပြုသွားမည်ဖြစ်ကြောင်း၊

(ဇ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်ထိခိုက်မှုမရှိစေရန် သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနမှထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းနှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ပြီး လိုအပ်သော ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှုအစီအစဉ်များကို ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ သစ်တောဦးစီးဌာန၏ စိစစ်သုံးသပ်မှုနှင့် အကြံပြုချက်များအရ အောက်ဖော်ပြပါကိစ္စရပ်များကို လိုက်နာဆောင်ရွက်ရန်လိုအပ် မည်ဖြစ်ပါသည် -

(က) Global Agriculture Joint Venture Company Limited မှ ပုဂ္ဂလိက ကျွန်းစိုက်ခင်း စိုက်ပျိုးတည်ထောင် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ရာတွင် သစ်တော ဥပဒေ၊ နည်း ဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ကြောင်း၊

(ခ) စိုက်ရန်လျာထားသည့်ဧက(၃၀၀၀၀) ပြည့်မီအောင် စိုက်ပျိုးနိုင်ရေးအတွက် လိုအပ်သည့် စိုက်ပျိုးမြေကို သစ်တောဦးစီးဌာနမှ ကြိုးဝိုင်းအတွင်း စိုက်ခင်းတည်ထောင်ခွင့် ခွင့်ပြုမိန့်ကို လုပ်ထုံးလုပ်နည်းနှင့်အညီ တင်ပြလျှောက်ထားနိုင်ပါကြောင်း၊

(ဂ) သစ်တောဦးစီးဌာနမှ စိုက်ပျိုးရန်ခွင့်ပြုထားသော မြေတွင်စီမံကိန်းအဆိုပြုလွှာပါအတိုင်း အပင်များကို ပြည့်မီအောင်စိုက်ပျိုးရန်လိုအပ်ပြီး စိုက်ပျိုးခြင်းမရှိသော မြေများအားဦးစီး ဌာနမှ လိုအပ်ပါက ပြန်လည်သိမ်းယူသွားမည်ဖြစ်ကြောင်း၊

(ဃ) ခုတ်ပတ်ပြည့်၍ ထုတ်ယူရောင်းချမည့် သစ်များကို ပြည်တွင်းသို့ (သို့မဟုတ်) ပြည်ပသို့ ရောင်းချသွားမည့် အစီအစဉ်ကို ရှင်းလင်းစွာဖော်ပြစေလိုပါကြောင်း၊

၄။ အဆိုပြုလုပ်ငန်း တည်ဆောက်လည်ပတ်ခြင်းနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည် -

(က) Global Agriculture Joint Venture Company Limited မှ ပုဂ္ဂလိက ကျွန်းစိုက်ခင်း စိုက်ပျိုးတည်ထောင် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေပြုပြင် ခြင်းလုပ်ငန်းဆောင်ရွက်ရာ၌ ချုံများကို ခုတ်ထွင်၍ မီးရှို့ရှင်းလင်းရာတွင် စနစ်တကျ ဆောင်ရွက်ခြင်းမရှိပါက မြေဆီလွှာအရည်အသွေးကျဆင်းပြီး မီးခိုးများကြောင့်ပတ်ဝန်း ကျင်ညစ်ညမ်းမှု ဖြစ်စေနိုင်ခြင်း၊

(ခ) အဆိုပြုစိုက်ခင်းလုပ်ငန်းကို စနစ်တကျအောင်မြင်အောင် ဆောင်ရွက်နိုင်ခြင်း မရှိပါက သစ်ပင် သစ်တောများ ပြုန်းတီးခြင်း၊ တောရိုင်းတိရိစ္ဆာန်တို့၏ နေထိုင်ကျက်စားရာနေရာ များ ပျက်ဆီးဆုံးရှုံးခြင်းတို့ကြောင့် အပင်/သတ္တဝါတို့၏ ဂေဟဗေဒစနစ်ထိခိုက်ပျက်စီး ပြီး ဇီဝမျိုးစုံ/မျိုးကွဲများ လျော့နည်းပျောက်ကွဲနိုင်ခြင်း၊

(ဂ) စိုက်ခင်းအတွက် ဓာတုဓာတ်မြေဩဇာနှင့် ပိုးသတ်ဆေးများကို အလွန်အကျွံသုံးစွဲပါက မြေဆီလွှာ၏ အရည်အသွေးကို ယိုယွင်းပျက်စီးစေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၅။ သို့ဖြစ်ပါ၍ Global Agriculture Joint Venture Company Limited မှ ပုဂ္ဂလိက ကျွန်းစိုက်ခင်း စိုက်ပျိုး တည်ထောင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ ပတ်ဝန်း ကျင် ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည် -

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေ မည့် နည်းစနစ်များအားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသားတင် အမြတ်ငွေ၏ ၂% ကိုအသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များ ကိုတိတိကျကျ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့်အညီ ကျွန်းစိုက်ခင်းတည်ထောင် စိုက်ပျိုးသွားမည့် ကြိုးဝိုင်းတစ်ခုချင်းအလိုက် ရေးဆွဲဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရစီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း **(Environmental Impact Assessment-EIA)** မစတင်မီအဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့်တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့်စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ထိဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာနှင့်ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက်ရယူရန်၊

(င) အတည်ပြုပြီးသောနယ်ပယ်အတိုင်းအတာသတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များအပေါ်အခြေခံ၍ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကိုဆောင်ရွက်ပြီး သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်းအကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သောပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍တစ်ပါတည်းတင်ပြရန်၊

(ဈ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ဆန္ဒနှင့် သဘောထားများကိုလည်း ရယူ ဆောင်ရွက်ရန်၊

(ည) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ EIA ရေးဆွဲပြီးဖြစ်ပါက အထက်ဖော်ပြပါ လုပ်ထုံးလုပ်နည်းများနှင့်အညီ အဆင့်ဆင့်ပြန်လည်တင်ပြ၍ အတည်ပြုမိန့်ရယူနိုင်ရေး စီစဉ်ဆောင်ရွက်ပါရန်။

၂၂/၈/၁၇

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို
၂၂/၈/၁၇

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ပဲခူးတိုင်းဒေသကြီး
ရုံးလက်ခံ